**Mon Petrol Co., Ltd. မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း ဆိပ်ခံတံတားတည်ဆောက်၍ ကုန်သေတ္တာသိုလှောင်ရေးစခန်း Bonded Warehouse လုပ်ငန်းနှင့် စားသုံးဆီသိုလှောင် ထောက်ပံ့ သယ်ယူ ပို့ဆောင်ရေးလုပ်ငန်း**

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | ၁၉-၃-၂၀၁၉ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့တင်ပြခြင်း | ၁၂/၂၀၁၉ (၂၅-၃-၂၀၁၉) | | |
| ၃ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာန<br>- မွန်ပြည်နယ်အစိုးရအဖွဲ့ | <br><br>၂-၄-၂၀၁၉<br><br>၂-၄-၂၀၁၉ | <br><br>၂၂-၄-၂၀၁၉<br><br>၂၆-၄-၂၀၁၉ | |
| ၄ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၁၁-၄-၂၀၁၉ | | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြ ရမည့်အချက်များ အကြောင်းကြားခြင်း | ၁၁-၄-၂၀၁၉ | | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၈/၂၀၁၉ (၂၉-၅-၂၀၁၉) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၆၅) ရက်** | | |

အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Mon Petrol Co., Ltd.

လုပ်ငန်းအမျိုးအစား ဆိပ်ခံတံတားတည်ဆောက်၍ ကုန်သေတ္တာသိုလှောင်ရေးစခန်း Bonded Warehouse လုပ်ငန်းနှင့် စားသုံးဆီသိုလှောင် ထောက်ပံ့ သယ်ယူ ပို့ဆောင်ရေးလုပ်ငန်း

PAT အကြိမ်/ ရက်စွဲ ၁၂/၂၀၁၉ (၂၅-၃-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✓) မပြီး(X) | မှတ်ချက် |
|---|---|---|---|
| ၁ | ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း အစီရင်ခံစာ EIA ကို ရေးဆွဲဆောင်ရွက်ရန် | ✓ | |
| ၂ | မြေရိယာ ၆၀ ဧကမှာပါဝင်သည့် မြေကွက်များ၏ ပိုင်ဆိုင်မှု အထောက်အထားကိုသာ ပူးတွဲတင်ပြရန် | ✓ | |

**အကြောင်းအရာ။** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mon Petrol Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆိပ်ခံတံတားတည်ဆောက်၍ ကုန်သေတ္တာ သိုလှောင်ရေးစခန်း Bonded Warehouse လုပ်ငန်းနှင့် စားသုံးဆီသိုလှောင် ထောက်ပံ့သယ်ယူ ပို့ဆောင်ရေးလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - Mon Petrol Co., Ltd.<br>- ဦးမြင့်တင်<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ဆိပ်ခံတံတားတည်ဆောက်၍ ကုန်သေတ္တာ သိုလှောင်ရေးစခန်း **Bonded Warehouse** လုပ်ငန်းနှင့် စားသုံးဆီသိုလှောင် ထောက်ပံ့ သယ်ယူပို့ဆောင်ရေးလုပ်ငန်း |
| ၂။ | တည်နေရာ | - ကွင်းအမှတ်-၈၅၆၊ ကမာသင်းတောင်ကွင်း၊ ကတုံးပေါ်ကျေးရွာ အုပ်စု၊ မုဒုံမြို့နယ်၊ မွန်ပြည်နယ် |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အအုံအရေအတွက်<br>မြေ/အဆောက်အအုံငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - Mon Petrol Co., Ltd.<br>- မြေဧရိယာ (၁၂၃.၇၈) ဧကအနက်မှ မြေဧရိယာ(၆၀) ဧက<br>-<br>-<br>- |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>**ထည့်ဝင်မည့်အမျိုးအစား** | **ကျပ် ၅၂,၅၀၀ သန်း (အမေရိကန်ဒေါ်လာ ၁၉.၃၂၁ သန်း အပါအဝင်)** |
| | | **ကျပ် (သန်း)** |
| | ငွေသား | ၁၄,၀၂၈.၄၁၇ |
| | စက်ပစ္စည်း | ၂၀,၇၃၆.၄၆၅ (US$ ၁၃.၈၂၄ သန်းအပါအဝင်) |
| | ဆောက်လုပ်ရေးသုံးပစ္စည်း | ၈,၂၄၅.၄၃၆ (US$ ၅.၄၉၇ သန်းအပါအဝင်) |
| | မြေနှင့်အဆောက်အအုံတန်ဖိုး | ၁,၃၃၅.၆၉၉ |
| | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်း | ၃၀၀.၀၀၀ |
| | Design Fees | ၁၅၀.၀၀၀ |
| | Jetty | ၇,၇၀၃.၉၈၃ |
| | | **၅၂,၅၀၀.၀၀၀(US$ ၁၉.၃၂၁ သန်းအပါအဝင်)** |



Salient

**၇။ နှစ်စဉ်ဝန်ဆောင်မှု(ပထမနှစ်)**

| စဉ် | အမျိုးအမည် | ယူနစ် | အရေအတွက် | ဝန်ဆောင်ခနှုန်း(ကျပ်) |
|---|---|---|---|---|
| (က) | ကုန်တွင်းဆိပ်ကမ်း ကုန်သေတ္တာ ကုန်းပတ်ဖြတ်ကျော်ခ | TEUs | ၂၅,၉၂၀ | ၇၈,၀၀၀ |
| (ခ) | ကုန်သေတ္တာ အတင်/အချခ | TEUs | ၂၅,၉၂၀ | ၁၃,၀၀၀ |
| (ဂ) | ကုန်သေတ္တာလွှင်ပြင် ထားသိုခ(ကုန်ပါ) | TEUs | ၂၆၄,၆၀၀ | ၅,၄၀၀ |
| (ဃ) | ကုန်သေတ္တာလွှင်ပြင် ထားသိုခ(အခွံ) | TEUs | ၂၆၄,၆၀၀ | ၁,၃၅၀ |
| (င) | ပို့ကုန်/သွင်းကုန်ပစ္စည်း ထိန်းသိမ်းထားသိုရာ နေရာခ/ ဂိုထောင်ငှားခ | CBM | ၅၃၁,၃၆၀ | ၃၀၀ |
| (စ) | အအေးခန်းကုန်သေတ္တာ ထားသိုခ | TEUs | ၅၂,၉၂၀ | ၂၁,၆၀၀ |
| (ဆ) | ပုံမှန်သန့်ရှင်းခ | TEUs | ၇,၇၇၆ | ၁၅,၀၀၀ |
| (ဇ) | ဓါတုဆေးရည်နှင့် သန့်ရှင်းခ | TEUs | ၁,၂၉၆ | ၂၀,၀၀၀ |
| (ဈ) | အထူးသန့်ရှင်းခ | TEUs | ၃၆၀ | ၂၅,၀၀၀ |
| (ည) | ၃ တန် | HOUR | ၁,၀၈၀ | ၁၀,၀၀၀ |
| (ဋ) | ၅ တန် | HOUR | ၁,၀၈၀ | ၁၅,၀၀၀ |
| (ဌ) | ၇ တန် | HOUR | ၁,၀၈၀ | ၁၅,၀၀၀ |

**၈။ ဝန်ထမ်းခန့်ထားမှု**

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| ဦးရေ | ၁၀၃ ဦး | - |
| အမြင့်ဆုံးလစာ(ကျပ်) | ၄,၀၀၀,၀၀၀ | - |
| အနိမ့်ဆုံးလစာ(ကျပ်) | ၂၅၀,၀၀၀ | - |

**၉။ အခြားတင်ပြချက်**

- Mon Petro Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ အဆောက်အဦ Layout Plan နှင့် မြေပိုင်ဆိုင်မှု အထောက်အထားများတင်ပြထားပါသည်။
- မွန်ပြည်နယ်အစိုးရအဖွဲ့နှင့် Mon Petrol Co., Ltd. တို့ကြား ချုပ်ဆိုထားသည့် ဆိပ်ကမ်း၊ စက်မှုဇုန်နှင့် ဘက်စုံဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းစီမံချက်များ(Projects) အကောင်အထည်ဖော်ရန်အတွက် ချုပ်ဆိုသော သဘောတူညီမှုစာချွန်လွှာအား တင်ပြထားပါသည်။
- Mon Petrol Co., Ltd. အနေဖြင့် လယ်မြေကို အခြားနည်းအသုံးပြု

| | | |
|---|---|---|
| | | ခွင့်အား မွန်ပြည်နယ်အစိုးရအဖွဲ့သို့ တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် ဦးအောင်ဆွေ၊ ဦးဇင်မင်းအောင် တို့ အမည်ဖြင့် AYA Bank ၌ ၁၇-၁၂-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၂,၀၀၀,၀၀၆,၈၇၅ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်းစိစစ်ပြီး ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် လုပ်ငန်းခွင်ဘေးကင်းရေးနှင့် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။<br>- ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။<br>- ကုမ္ပဏီမှ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |

**ကန့်သတ်**

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(အ)/ခ-၀၃၄/၂၀၁၉(၂၈၂)

ရက်စွဲ၊ ၂၀၁၉ ခုနှစ် မေ လ ၂၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mon Petrol Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆိပ်ခံတံတားတည်ဆောက်၍ ကုန်သေတ္တာသိုလှောင်ရေးစခန်း Bonded Warehouse လုပ်ငန်းနှင့် စားသုံးဆီသိုလှောင်ထောက်ပံ့သယ်ယူ ပို့ဆောင်ရေးလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် **Mon Petrol Co., Ltd.** မှ ကွင်းအမှတ်-၈၅၆၊ ကမာသင်းတောင်ကွင်း၊ ကတုံးပေါ်ကျေးရွာအုပ်စု၊ မုဒုံမြို့နယ်၊ မွန်ပြည်နယ်ရှိ မြေဧရိယာ ၁၂၃.၇၈ ဧကအနက်မှ မြေဧရိယာ ၆၀.၀၀ ဧက တွင် **ဆိပ်ခံတံတားတည်ဆောက်၍ ကုန်သေတ္တာ သိုလှောင်ရေးစခန်း Bonded Warehouse လုပ်ငန်းနှင့် စားသုံးဆီသိုလှောင် ထောက်ပံ့သယ်ယူ ပို့ဆောင်ရေးလုပ်ငန်း**ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ Mon Petrol Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ မြေပိုင်ဆိုင်မှုအထောက်အထားများ၊ လယ်မြေကို အခြားနည်းအသုံးပြုခွင့်ရရှိရန် မွန်ပြည်နယ်အစိုးရအဖွဲ့သို့တင်ပြထားသည့် အထောက်အထားများ၊ ဆိပ်ကမ်း၊ စက်မှုဇုန်နှင့် ဘက်စုံဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းစီမံချက်များ (Projects) အကောင်အထည်ဖော်ရန်အတွက် မွန်ပြည်နယ်အစိုးရအဖွဲ့နှင့် Mon Petrol Co., Ltd. တို့ကြား ချုပ်ဆိုထားသည့် သဘောတူညီမှုစာချွန်လွှာ နှင့် အဆောက်အဦ Layout Plan တို့အား ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၂ နှစ် ဖြစ်ပြီး စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၅၂,၅၀၀,၀၀၀.၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** | |
|---|---|---|
| ငွေသား | ၁၄,၀၂၈.၄၁၇ | |
| စက်ပစ္စည်း | ၂၀,၇၃၆.၄၆၅ | ((US$ ၁၃.၈၂၄သန်းအပါအဝင်) |
| ဆောက်လုပ်ရေးသုံးပစ္စည်း | ၈,၂၄၅.၄၃၆ | (US$ ၅.၄၉၇ သန်းအပါအဝင်) |
| မြေနှင့်အဆောက်အအုံတန်ဖိုး | ၁,၃၃၅.၆၉၉ | |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | ၃၀၀.၀၀၀ | |
| Design Fees | ၁၅၀.၀၀၀ | |
| Jetty | ၇,၇၀၃.၉၈၃ | |
| **စုစုပေါင်း** | **၅၂,၅၀၀.၀၀၀** | **(US$ ၁၉.၃၂၁ သန်းအပါအဝင်)** |

**ကန့်သတ်**

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၁၀၃ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၄,၀၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းခန့်ထားခြင်း မရှိပါ။

၅။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် အမျိုးအမည်၊ ယူနစ်နှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ယူနစ် | အရေအတွက် | ဝန်ဆောင်ခ နှုန်း(ကျပ်) |
|---|---|---|---|---|
| (က) | ကုန်တွင်းဆိပ်ကမ်းကုန်သေတ္တာ ကုန်းပတ်ဖြတ်ကျော်ခ | TEUs | ၂၅,၉၂၀ | ၇၈,၀၀၀ |
| (ခ) | ကုန်သေတ္တာ အတင်/အချခ | TEUs | ၂၅,၉၂၀ | ၁၃,၀၀၀ |
| (ဂ) | ကုန်သေတ္တာလွှင်ပြင် ထားသိုခ(ကုန်ပါ) | TEUs | ၂၆၄,၆၀၀ | ၅,၄၀၀ |
| (ဃ) | ကုန်သေတ္တာလွှင်ပြင် ထားသိုခ(အခွံ) | TEUs | ၂၆၄,၆၀၀ | ၁,၃၅၀ |
| (င) | ပို့ကုန်/သွင်းကုန်ပစ္စည်း ထိန်းသိမ်းထားသိုရာနေရာခ/ ဂိုထောင်ငှားခ | CBM | ၅၃၁,၃၆၀ | ၃၀၀ |
| (စ) | အအေးခန်းကုန်သေတ္တာ ထားသိုခ | TEUs | ၅၂,၉၂၀ | ၂၀,၆၀၀ |
| (ဆ) | ပုံမှန်သန့်ရှင်းခ | TEUs | ၇,၇၇၆ | ၁၅,၀၀၀ |
| (ဇ) | ဓါတုဆေးရည်နှင့် သန့်ရှင်းခ | TEUs | ၁,၂၉၆ | ၂၀,၀၀၀ |
| (ဈ) | အထူးသန့်ရှင်းခ | TEUs | ၃၆၀ | ၂၅,၀၀၀ |
| (ည) | ၃ တန် | HOUR | ၁,၀၈၀ | ၁၀,၀၀၀ |
| (ဋ) | ၅ တန် | HOUR | ၁,၀၈၀ | ၁၅,၀၀၀ |
| (ဌ) | ၇ တန် | HOUR | ၁,၀၈၀ | ၁၅,၀၀၀ |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနအဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **မွန်ပြည်နယ်အစိုးရအဖွဲ့** 

(နောက်ဆက်တွဲ-က)

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကွင်းအမှတ်-၈၅၆၊ ကမာသင်းတောင်ကွင်း၊ ကတုံးပေါ် ကျေးရွာအုပ်စု၊ မုဒုံမြို့နယ်၊ မွန်ပြည်နယ်ရှိ မြေဧရိယာ ၁၂၃.၇၈ ဧကအနက်မှ မြေဧရိယာ ၆၀.၀၀ ဧက တွင် ဆိပ်ခံတံတားတည်ဆောက်၍ ကုန်သေတ္တာသိုလှောင်ရေး စခန်း Bonded Warehouse လုပ်ငန်းနှင့် ထောက်ပံ့သယ်ယူပို့ဆောင်ရေး လုပ်ငန်း အပေါ် ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

(ခ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)
အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် ရေဒေသရေိယာအသုံးချမှု ပရီမီယံကြေးနှင့် လစဉ်ရေဒေသရေိယာ ငှားရမ်းခများ ပေးဆောင်စေရမည်ဖြစ်ပြီး မြန်မာ့ဆိပ်ကမ်းအာဏာပိုင် နှင့် Mon Petrol Co., Ltd. တို့အကြား ပဋိညာဉ်စာချုပ်နှင့် ရေဒေသငှားရမ်းခြင်းစာချုပ်များ ချုပ်ဆိုရန် လိုအပ်မည်ဖြစ်ပြီး ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၇။ ငွေကြေးအထောက်အထားအဖြစ် AYA Bank ၌ ဦးအောင်ဆွေ၊ ဦးဇင်မင်းအောင်တို့ အမည်ဖြင့် ၁၇-၁၂-၂၀၁၈ ရက်စွဲတွင် ကျပ် ၂,၀၀၀,၀၀၆,၈၇၅ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် လုပ်ငန်းခွင်ဘေးကင်းရေးနှင့် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဃ) ကုမ္ပဏီမှ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mon Petrol Co., Ltd. မှ ဆိပ်ခံတံတားတည်ဆောက်၍ ကုန်သေတ္တာသိုလှောင်ရေးစခန်း Bonded Warehouse လုပ်ငန်းနှင့် စားသုံးဆီသိုလှောင် ထောက်ပံ့သယ်ယူ ပို့ဆောင်ရေးလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(သန့်စင်လွင်၊ ခေတ္တအတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ




**နောက်ဆက်တွဲ-က**



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ပြည်နယ်အစိုးရအဖွဲ့**
**မွန်ပြည်နယ်**

| ဝင်စာအမှတ် | 174.1707 |
|---|---|
| ရက်စွဲ | 6.5.2017 |

စာအမှတ်၊ ၂၀၀/ ၄-၃/ အဖရ(မွန်)( ၀၂၀၉)
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဧပြီလ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂-၄-၂၀၁၉)ရက်စွဲပါစာအမှတ်၊ မရက-၅(အ)ခ-၀၃၄/၂၀၁၉(၂၂၆)

မုဒုံမြို့နယ်၊ ကတုံးပေါ်ကျေးရွာအုပ်စု၊ ကမာသင်းတောင်ကွင်း၊ ကွင်းအမှတ်(၈၅၆)၊ မြေ (၁၂၃.၇၈) ဧကအနက်မှ မြေ (၆၀.၀၀) ဧကတွင် ဆိပ်ခံတံတားတည်ဆောက်၍ ကုန်သေတ္တာသိုလှောင်ရေးစခန်း Bonded Warehouse လုပ်ငန်းနှင့် ထောက်ပံ့သယ်ယူပို့ဆောင်ရေးလုပ်ငန်းအား ဆောင်ရွက်နိုင်ပါရန် Mon Petrol Co.,Ltd မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာခြင်းအပေါ် ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် ( ကိုယ်စား )
(လှဝင်းတင်၊ အတွင်းရေးမှူး)

မိတ္တူကို

လှည့်လည်စာတွဲ
ရုံးလက်ခံ

NPT-1714

၁၁.၄.၁၉




နောက်ဆက်တွဲ-ခ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

| | |
|---|---|
| ဝင်စာအမှတ် | M4.1672 |
| ရက်စွဲ | 24.4.2019 |

စာအမှတ်၊ ပဆ-(၃)/ (မြေ-MPA)/ ၂၀၁၉(၁၄၇ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဧပြီလ ၂၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၄-၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/ ခ-၀၃၄/ ၂၀၁၉ (၂၂၅)

၁။ Mon Petrol Co., Ltd. က မွန်ပြည်နယ်၊ မုဒုံမြို့နယ်၊ ကတုံးပေါ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၈၅၆၊ ကမာသင်းတောင်ကွင်းရှိ မြေ(၁၂၃.၇၈)ကေအနက် မြေ(၆၀.၀၀)ကေတွင် ဆိပ်ခံတံတား တည်ဆောက်၍ ကုန်သေတ္တာသိုလှောင်ရေးစခန်း Bonded Warehouse လုပ်ငန်းနှင့် ထောက်ပံ့သယ်ယူပို့ဆောင်ရေးလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာသည့် ကိစ္စဖြစ်ပါသည်။

၂။ Mon Petrol Company Limited သည် မွန်ပြည်နယ်၊ မုဒုံမြို့နယ်၊ ကမာသင်းတောင်ကွင်း၊ ကတုံးပေါ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၈၅၆ ၏ မြေဧရိယာ(၆၀.၀၀)ကေကို ကျောထောက်နောက်ခံပြု၍ သံလွင်မြစ်ကမ်းပါးတွင် မျက်နှာစာ အလျား ၂၀၀ မီတာ၊ အကျယ် ၂၄.၆၅ မီတာ အရွယ်အစားရှိ ပင်မဆိပ်ခံတံတားနှင့် အလျား ၄၂ မီတာ၊ အကျယ် ၁၄.၆ မီတာအရွယ် ချဉ်းကပ်တံတား(၂)စင်းတို့ ပါဝင်သော အပြည်ပြည်ဆိုင်ရာသင်္ဘောကြီးများ ဆိုက်ကပ်နိုင်သည့် ဆိပ်ခံတံတားတည်ဆောက်မည်ဖြစ်ကြောင်း တင်ပြထားသည်ကို တွေ့ရှိရပါသည်။

၃။ အဆိုပါ Mon Petrol Company Limited မှ ဆိပ်ခံတံတား တည်ဆောက်မည့် မုဒုံမြို့နယ်၊ ကမာသင်းတောင်ကွင်း၊ ကတုံးပေါ်ကျေးရွာအုပ်စု၊ သံလွင်မြစ်ကမ်းပါးရှိ အဆိုပြုတည်နေရာသည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော ရေဒေသဧရိယာအတွင်း တည်ရှိနေကြောင်း စိစစ်တွေ့ရှိရပါသည်။

\\Moldata\F\WATER\2019\MPA\PA SA (LAND).doc

၄။ ထို့ကြောင့် Mon Petrol Company Limited သည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စီမံခန့်ခွဲပိုင်ခွင့် ရှိသည့် ရေဒေသရေိယာအတွင်း ဆိပ်ခံတံတား တည်ဆောက်မည်ဖြစ်သည့်အတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ရေဒေသရေိယာအသုံးချမှုပရီမီယံကြေးနှင့် လစဉ်ရေဒေသရေိယာ ငှားရမ်းခ များ ပေးဆောင်စေရမည်ဖြစ်ပြီး မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Mon Petrol Company Limited တို့အကြား ပဋိညာဉ်စာချုပ်နှင့် ရေဒေသငှားရမ်းခြင်းစာချုပ်များ ချုပ်ဆိုရန် လိုအပ်မည် ဖြစ်ပါသည်။

၅။ ထို့အပြင် Mon Petrol Company Limited မှ ကျောထောက်နောက်ခံမြေတွင် Bonded Warehouse ဆောင်ရွက်လိုကြောင်း တင်ပြထားရာတွင် Bonded Warehouse ဆောင်ရွက်ခွင့် ပြုခြင်းနှင့်ပတ်သက်၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ တိုက်ရိုက်ခွင့်ပြုနိုင်သော လုပ်ငန်းမဟုတ်ပါ ကြောင်းနှင့် အကောက်ခွန်ဦးစီးဌာနမှသာ ဆောင်ရွက်ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါ ကြောင်း တွေ့ရှိရပါသည်။

၆။ သို့ဖြစ်ပါ၍ Mon Petrol Company Limited မှ မွန်ပြည်နယ်၊ မုဒုံမြို့နယ်၊ ကမာသင်း တောင်ကွင်း၊ ကတိုးပေါ်ကျေးရွာအုပ်စုရှိ မြေ (၆၀.၀၀) ကေတွင် ဆိပ်ခံတံတား တည်ဆောက်ပြီး ကုန်သေတ္တာသိုလှောင်ရေးစခန်း၊ Bonded Warehouse လုပ်ငန်းနှင့် ထောက်ပံ့သယ်ယူပို့ဆောင်ရေး လုပ်ငန်းဆောင်ရွက်မည့် အဆိုပြုတင်ပြထားခြင်းကိစ္စအပေါ် အထက်စာပိုဒ် (၄)ပါအတိုင်း ဆောင်ရွက် မည်ဆိုပါက ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို

- Mon Petrol Company Limited
- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
- ရုံးလက်ခံ
- မျှောစာတွဲ

\\Matdata\F\WATER\2019\MPA\PA SA (LAND).Doc